




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၅၉ /၂၀၁၄ ။ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီ လ ၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးရဲမင်းအောင်

(ခ) အဘ အမည် ဦးမြင့်လွင်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/တမန(နိုင်) ၀၉၄၅၈၂

(ဃ) နေရပ်လိပ်စာ အမှတ်(၁၇)၊မြခွါညို(၁)လမ်း၊ ၇(အနောက်)ရပ်ကွက်၊ သာကေတမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Myanmar Agribusiness Public Corporation(MAPCO) Limited [ မြန်မာအဂရီ ဘစ္စနက် ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ]

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား ပေါင်းဆန် နှင့် ဆန်ဖြူ အဆင့်မြင့် ကြိတ်ခွဲ ထုတ်လုပ်မှု လုပ်ငန်း၊ စက်မှုလယ်ယာ အငှားလိုက် ဝန်ဆောင်မှုလုပ်ငန်း နှင့် အကျိုးတူ ကန်ထရိုက် လယ်ယာလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) နေပြည်တော်၊ ပျဉ်းမနားမြို့နယ်၊ မယ်ဇလီကုန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၆၆၉)၊ ဦးပိုင်အမှတ်- ၅၈/၁၊ ၅၉/၂ ၊ ၆၀/၁ ၊ ၆၁/၁ ၊ ၆၁/၃ ရှိ လယ်မြေ စုစုပေါင်း (၈.၆၆) ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၁၅၀၀၀.၀၀ သန်းခန့် ( အမေရိကန်ဒေါ်လာ ၁၂.၅၀၄ သန်း အပါအဝင် စုစုပေါင်းကျပ်တစ်သောင်းငါးထောင်သန်းခန့် )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




ကန့်သတ်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၁၀ /၂၀၁၄(မနသ)
၂၀၁၄ ခုနှစ် ဖေဖော်ဝါရီလ ၇ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Myanmar Agribusiness Public Corporation (MAPCO) Limited [ မြန်မာအဂရီ ဘစ္စနက် ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ]သည် နေပြည်တော် ၊ ပျဉ်းမနားမြို့နယ်၊ မယ်ဇလီကုန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၆၆၉)၊ ဦးပိုင်အမှတ် - ၅၈/၁ ၊ ၅၉/၂ ၊ ၆၀/၁ ၊ ၆၁/၁ ၊ ၆၁/၃ တို့ရှိ လယ်မြေ စုစုပေါင်း (၈.၆၆) ဧကတွင် ပေါင်းဆန်နှင့် ဆန်ဖြူအဆင့်မြင့် ကြိတ်ခွဲထုတ်လုပ်မှုလုပ်ငန်း၊ စက်မှုလယ်ယာအငှားလိုက် ဝန်ဆောင်မှုလုပ်ငန်းနှင့် အကျိုးတူကန်ထရိုက် လယ်ယာလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၃၀-၁-၂၀၁၄) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၁၄ ) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myanmar Agribusiness Public Corporation(MAPCO) Limited [ မြန်မာအဂရီ ဘစ္စနက်ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ] အား ပေါင်းဆန်နှင့် ဆန်ဖြူအဆင့်မြင့် ကြိတ်ခွဲ ထုတ်လုပ်မှုလုပ်ငန်း၊ စက်မှုလယ်ယာ အငှားလိုက် ဝန်ဆောင်မှုလုပ်ငန်း နှင့် အကျိုးတူကန်ထရိုက် လယ်ယာ လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၉၅၉/၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၂။ Myanmar Agribusiness Public Corporation(MAPCO) Limited [ မြန်မာအဂရီ ဘစ္စနက် ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ] အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက် သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဥ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ဋ)အရ ပြည်ပသို့ တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုစသည်တို့နှင့် စပ်လျဥ်း၍ နိုင်ငံတကာ

အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Myanmar Agribusiness Public Corporation (MAPCO) Limited[ မြန်မာအဂရိဘစ္စနက်ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ] သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Myanmar Agribusiness Public Corporation(MAPCO) Limited [ မြန်မာအဂရိဘစ္စနက် ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ]သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ Myanmar Agribusiness Public Corporation(MAPCO) Limited [ မြန်မာအဂရိဘစ္စနက် ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ]သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှုအရည်အသွေး၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြ ထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာ ဌာနများ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၈။ Myanmar Agribusiness Public Corporation(MAPCO) Limited [ မြန်မာအဂရိဘစ္စနက် ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ]မှ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်း ဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၉။ Myanmar Agribusiness Public Corporation(MAPCO) Limited [ မြန်မာအဂရိဘစ္စနက် ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ] သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန် ၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန် အတွက် သင်တန်းများပေးရမည်။

၁၀။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက် အစီရင်ခံရမည်။**

၁၁။ Myanmar Agribusiness Public Corporation(MAPCO) Limited [ မြန်မာအဂရီဘစ္စနက် ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ]သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၂။ Myanmar Agribusiness Public Corporation (MAPCO) Limited [ မြန်မာအဂရီဘစ္စနက် ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ] သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက် အစီရင်ခံရမည်။**

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ Myanmar Agribusiness Public Corporation(MAPCO) Limited [ မြန်မာအဂရီ ဘစ္စနက် ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ] သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာကစစ်ဆေးတွေ့ရှိလျှင် စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ

၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)
ဥက္ကဋ္ဌ

စာအမှတ်၊ရကက-၆(က)/မ-၁၃၈၆/၂၀၁၄( ၁ ၃ ၅ ၅ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဖေဖော်ဝါရီ လ ၃ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန
ဆက်သွယ်ရေး ၊ သတင်းအချက်အလက် နှင့် နည်းပညာ ဝန်ကြီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဥက္ကဋ္ဌ၊ နေပြည်တော်ကောင်စီ

ဥက္ကဋ္ဌ၊ နေပြည်တော်စည်ပင်သာယာရေးကော်မတီ

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှုမြှင့်တင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

အုပ်ချုပ်မှုဒါရိုက်တာ ၊ Myanmar Agribusiness Public Corporation(MAPCO) Limited
[မြန်မာ အဂရီ ဘစ္စနက် ပတ်ဘလစ် ကော်ပိုရေးရှင်း (အမ်အေပီစီအို) လီမိတက် ]